




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၁၂၆/၂၀၁၇ ၂၀၁၇ ခုနှစ်၊ အောက်တိုဘာလ ၄ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၅၊ ပုဒ်မခွဲ(ဂ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူအမည် ဦးရဲဝင်း

(၂) နိုင်ငံသား မြန်မာ

(၃) နေရပ်လိပ်စာ အမှတ်-၁၊ သီရိ (၃) လမ်း၊ ၂ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ ရတနာစု ကုမ္ပဏီ လီမိတက် အမှတ်-၁၊ သီရိ(၃)လမ်း၊ ၂ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့

(၅) ဖွဲ့စည်းရာအရပ် မြန်မာနိုင်ငံ

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား ရေနံဓာတ်ငွေ့ရည် ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းပိုင် မြန်မာ့ရေနံဓာတ်ငွေ့ ရည်စက်ရုံ(ညောင်တုန်း)၊ ဧရာဝတီတိုင်းဒေသကြီးနှင့် ရေနံဓာတ်ငွေ့ရည် အလုံအရောင်းဆိုင်၊ အင်းစိန်အရောင်းဆိုင်၊ မြောက်ဒဂုံအရောင်းဆိုင်နှင့် မှော်ဘီအရောင်းဆိုင်

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ -

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ -

(၁၀) စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်) ၃,၀၀၀ သန်း (အမေရိကန်ဒေါ်လာ တစ်သန်း အပါအဝင် ကျပ် သန်းသုံးထောင် တိတိ)

(၁၁) တည်ဆောက်မှု/ပြင်ဆင်မှုကာလ ၂ နှစ်

(၁၂) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့် သက်တမ်း ၃၀ နှစ်

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် ကုမ္ပဏီအမည် Yadanar Su Company Limited (ရတနာစု ကုမ္ပဏီ လီမိတက်)

9.10.17

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်




# ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊ မရက- ၅(စ)/ခ-၀၀၅/၂၀၁၇ (၄၄၇-ဂ)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် အောက်တိုဘာလ ၃ ရက်

အကြောင်းအရာ။ **Yadanar Su Company Limited (ရတနာစုကုမ္ပဏီလီမိတက်) ၏ ရေနံ ဓာတ်ငွေ့ ရည်ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းခွင့်ပြုမိန့်အပေါ် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၏ ၂၄-၈-၂၀၁၇ ရက်စွဲပါစာအမှတ်၊ စွမ်းအင်/မူဝါဒ- ဥပဒေ-လုပ်ငန်းစစ်/၀၄ (၃၆၇/၂၀၁၇)

၁။ Yadanar Su Company Limited (ရတနာစုကုမ္ပဏီလီမိတက်) မှ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းပိုင်၊ မြန်မာ့ရေနံဓာတ်ငွေ့ရည်စက်ရုံ(ညောင်တုန်း)၊ ဧရာဝတီတိုင်းဒေသကြီးနှင့် ရေနံဓာတ်ငွေ့ရည်အလုံ အရောင်းဆိုင်၊ အင်းစိန်အရောင်းဆိုင်၊ မြောက်ဒဂုံအရောင်းဆိုင်နှင့် မှော်ဘီအရောင်းဆိုင်တို့ကို ငှားရမ်းကာ ရေနံဓာတ်ငွေ့ရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းအား ၂၀၁၇ ခုနှစ် စက်တင်ဘာလ ၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၃/၂၀၁၇) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် Yadanar Su Company Limited (ရတနာစုကုမ္ပဏီလီမိတက်) အား ရေနံဓာတ်ငွေ့ရည် ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ ၀၂၆/၂၀၁၇ ကို ထုတ်ပေး လိုက်သည်။

၂။ Yadanar Su Company Limited (ရတနာစုကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာ ဆောင်ရွက်ရမည်-

(က) Yadanar Su Company Limited (ရတနာစုကုမ္ပဏီလီမိတက်) ၏ သက်တမ်းကာလမှာ နှစ် ၃၀ (သက်တမ်းတိုး ၅ နှစ် နှစ်ကြိမ်) ဖြစ်ပါသည်။

(ခ) မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့် ရတနာစု ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် ကျွန်းချောင်း ရေနံ ဓာတ်ငွေ့ရည်စက်ရုံကို ညောင်တုန်း ရေနံဓာတ်ငွေ့ရည်စက်ရုံ မြေနေရာသို့ ပြောင်းရွှေ့ တပ်ဆင်၍ ဌာနပိုင်မြေနှင့်တကွ ရေနံဓာတ်ငွေ့ရည်စက်ရုံ(၂)ရုံနှင့် ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင် (၄)ဆိုင်တို့ကို ငှားရမ်းခြင်း၊ စက်ရုံလည်ပတ်ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးရောင်း ချခြင်းနှင့် အမြတ်ခွဲဝေမှုသဘောတူစာချုပ်အရ စာချုပ်သက်တမ်းသည် စာချုပ်အကျိုး သက်ရောက်သည့်နေ့မှစ၍ နှစ် ၃၀ ဖြစ်ပြီး၊ စာချုပ်သက်တမ်းမကုန်မီ ၆လ ကြိုတင်၍ ဆက်လက်ငှားရမ်းလိုကြောင်း တင်ပြလာပါက တစ်ကြိမ်လျှင် ၅နှစ်ဖြင့် နှစ်ကြိမ် သက် တမ်းတိုးမြှင့် ဆောင်ရွက်နိုင်မည်ဖြစ်ပါသည်။

(ဂ) စက်ရုံငှားရမ်းခ အနေဖြင့် စက်လည်ပတ်ရက် ၂၀၀ အထက် ကျော်လွန်ခဲ့လျှင် စက်ရုံ၏ (၁)နှစ် ငှားရမ်းခ ကျပ်သန်း ၃၂၀ အား မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းသို့ ပေးချေရပါမည်။

**ကန့်သတ်**

စက်ရုံ၏ (၁)နှစ် ငှားရမ်းခအား စက်လည်ပတ်ရက် ၁၅ဝမှ ၂ဝဝ ရက်အတွင်း စက်လည်ပတ်ပါက ငှားရမ်းခ ကျပ်သန်း ၁၇ဝ ဖြင့်လည်းကောင်း၊ စက်လည်ပတ်ရက် ၁၅ဝ အောက် လျော့နည်းပါ က ငှားရမ်းခ ကျပ်သန်း ၇ဝ ဖြင့်လည်းကောင်း၊ စက်ရုံလုံးဝလည်ပတ်မှု မရှိသည့် အခြေအနေဖြစ်ပါက ငှားရမ်းခ ကျပ်သန်း ၂ဝ ဖြင့်လည်းကောင်း မြန်မာ့ရေနံဓာတုဗေဒ လုပ်ငန်းသို့ ပေးချေရပါမည်။ စက်ရုံ၏ တစ်နှစ်ငှားရမ်းခ နှုန်းထားများအား ၎င်းအချိန်တွင် ကျသင့်နေသော ငှားရမ်းခ၏ ၂% မှ ၅% ထက်မပိုသော နှုန်းထားဖြင့် (၅)နှစ် လျှင်တစ်ကြိမ် နှစ်ဦးနှစ်ဖက် ညှိနှိုင်းတိုးမြှင့်သတ်မှတ်ပေးချေ ရမည်။

(ဃ) Yadanar Su Company Limited (ရတနာစုကုမ္ပဏီလီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၂) အရ မြေအသုံးပြုခွင့်နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၁၈)၊ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့်အချက်များနှင့် အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(င) Yadanar Su Company Limited (ရတနာစုကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ **ထုတ်လုပ်မှု ရည်မှန်းချက်များကို အကောင်းဆုံး** အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

(စ) Yadanar Su Company Limited (ရတနာစုကုမ္ပဏီလီမိတက်)အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၆၅ နှင့် နည်း ဥပဒေ အခန်း (၂ဝ) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့် အညီ လိုက်နာဆောင်ရွက်ရမည်။

(ဆ) Yadanar Su Company Limited (ရတနာစုကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) တို့ကို သက်ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ ဆောင်ရွက်ရမည်။

(ဇ) Yadanar Su Company Limited (ရတနာစုကုမ္ပဏီလီမိတက်)သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(ဈ) Yadanar Su Company Limited (ရတနာစုကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ ခွင့်ပြုမိန့် သို့မဟုတ် သက်သာခွင့် ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ်ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီး နောက်သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ် အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက် (ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ည) Yadanar Su Company Limited (ရတနာစု ကုမ္ပဏီ လီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်း အစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Yadanar Su Company Limited (ရတနာစုကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေအသုံးပြုခွင့်နှင့်ပတ်သက်၍ မြေအသုံးချမှု ပြောင်းလဲခြင်း လုပ်ငန်းစဉ်အား သက်ဆိုင်ရာ ဥပဒေနှင့်အညီ အကောင်အထည်ဖော် ဆောင်ရွက်ပြီးပါက ကော်မရှင်သို့ ပြန်လည် တင်ပြသွားရမည်။

၄။ Yadanar Su Company Limited (ရတနာစုကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်းစာချုပ်ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန်လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီဆောင်ရွက်ပြီး မိတ္တူ(၅) စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

3.10.17

(ကျော်ဝင်း)

ဥက္ကဋ္ဌ

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ ရန်ကုန်မြို့
ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ ပုသိမ်မြို့
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

၄

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရေနံနှင့်သဘာဝဓာတ်ငွေ့စီမံရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ရန်ကုန်တိုင်းဒေသကြီး ဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ဧရာဝတီတိုင်းဒေသကြီး ဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ရတနာစုကုမ္ပဏီလီမိတက် (Yadanar Su Company Limited)